# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၁၇၉.../၂၀၀၃။ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီ လ ၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ... ဦးဖေဝင်း

(ခ) အဘအမည် ... ဦးငှန်မုန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ... ၉/မနမ(နိုင်)၀၇၂၄၄၁

(ဃ) နေရပ်လိပ်စာ ... အကွက်အမှတ်(၁၂၂)၊ ဖန်ချက်ဝန်ဦးမြူးလမ်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၁)၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ... တော်ဝင်မြန်မာကုမ္ပဏီလီမိတက် (Taw Win Myanmar Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ... C M P စနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ... မြေကွက်အမှတ်(၄၁)က နေဝင်းမင်းသားကြီးလမ်း၊ စက်မှုဇုန်(၁)လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ... (၁၀.၅၀)သန်း (ကျပ်တစ်ဆယ်သန်း ငါးသိန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၈ /၂၀၀၃ (မနသ)

ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ ပြာသိုလဆန်း ( ၅ ) ရက်

(၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.) သည် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန ထံမှ ဦးဖေဝင်း အမည်ဖြင့် အသုံးပြုခွင့်ပေးထားသော မြေကွက် အမှတ်(၄၁)၊ ကနောင်မင်းသားကြီးလမ်း စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ(၁.၅၃)ဧက မှ (၀.၇၅)ဧက (၃၀၃၅.၁၅ စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှါးရမ်းဆောင်ရွက်လျက်ရှိသော CMP စနစ် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာပါသည်။ ဤ လုပ်ငန်းမှာ မူလက ကော်မရှင်ခွင့်ပြုမိန့်ဖြင့် မဟုတ်ပဲ၊ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ ယခုအခါ CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီ မှတဆင့် စိစစ်ပြီး တင်ပြလာပါ၍ (၁၃-၉-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၁/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၃-၁၀-၂၀၀၂)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၅/၂၀၀၂)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေး၏ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၁၉-၁၂-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၄၆/၂၀၀၂)အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ ၅၇၀/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ဥပဒေ ပုဒ်မ ၁၂ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ တရားဝင်ခွင့်ပြုသည့် ( ၅ - ၁-၂၀၀၃) နေ့မှ အစပြု၍ တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်း တန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ည)အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့်တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)သည် လုပ်ငန်း ဆောင်ရွက်မှု အတွက် နိုင်ငံခြားငွေဖြင့် ရရှိသော အခကြေးငွေများကို မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်/ မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေး ဘဏ်ရှိ မိမိ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းစေရမည်။ အလုပ်သမားများအတွက် လုပ်အားခပေးရန် ပြန်လည် ထုတ်ယူသည့် FEC များကို သတ်မှတ်ခွင့်ပြုထားသည့် MONEY CHANGER များတွင်သာ လဲလှယ်ပြီး မိမိတို့၏ အလုပ်သမားများအား လုပ်ခလစာများ ပေးရန် ဖြစ်သည်။

၆။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိ ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၉။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ် စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထား သည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၁။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)သည် အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်သည့်နေ့ကို စီးပွားဖြစ် စတင်ပြီး တစ်လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း ဆက်လက် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၃။ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၈၅၁/၂၀၀၂ (၄၁၂၆-၈)

ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်းထောက်လှမ်းရေးဌာန)။

၅။ အမှတ်(၁)စက်မှုဝန်ကြီးဌာန။

၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ ဥက္ကဋ္ဌ၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီ။ (အမှတ်(၁) စက်မှုဝန်ကြီးဌာန)။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ်လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ မန်နေးဂျင်း ဒါရိုက်တာ၊ တော်ဝင် မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၃၀/ ၂၀၀၂ (၃၆၉ ၃ )။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ ၆ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် (Taw Win Myanmar Co., Ltd.) မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းလုပ်ကိုင်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ စိစစ်ထောက်ခံ တင်ပြလာပါသည်။ အဆိုပါတင်ပြချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၉-၂၀၀၂)နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် (၃၁/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ (၃-၁၀-၂၀၀၂)နေ့တွင် ကျင်းပခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၅/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ သဘောတူညီချက်အရ ကုမ္ပဏီမှ အဆိုပြုချက် တင်ပြလာသဖြင့် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက် ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၁၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၀.၅၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်ပမှ ဝယ်ယူအသုံးပြုထားကြောင်း တင်ပြထားပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန် အတွက် မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဦးဖေဝင်း အမည် ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၄၁)၊ ကနောင်မင်းသားကြီးလမ်း၊ စက်မှုဇုန်-၁၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၁.၅၃)ဧက အနက်မှ (၀.၇၅)ဧက (၃၀၃၅.၁၅ စတုရန်းမီတာ)နှင့် ယင်းမြေ ပေါ်ရှိ အဆောက်အဦကို ငှါးရမ်း၍ လုပ်ငန်းဆောင်ရွက်ခြင်း ဖြစ်ပါသည်။

၄။ လုပ်ငန်းမှ ထုတ်လုပ်မှု၏ (၉၉) ရာခိုင်နှုန်းအား CMP စနစ်အရ ပြည်ပသို့ တင်ပို့မည်ဖြစ်ပြီး၊ ကျန် ပယ်ထည် (Reject) (၁) ရာခိုင်နှုန်းအား ပြည်တွင်းတွင်ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိထုတ်လုပ်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) |
|---|---|---|
| ၁။ | T-Shirt | ၂၅,၀၀၀ |
| ၂။ | Polo Shirt | ၂၅,၀၀၀ |
| ၃။ | Sweat Shirt | ၁၀,၀၀၀ |
| ၄။ | Jacket | ၂၀,၀၀၀ |
| ၅။ | Sport Wear | ၂၀,၀၀၀ |
| ၆။ | Ladies Shirt | ၂၀,၀၀၀ |
| ၇။ | Boy Shirt | ၂၁,၀၀၀ |

၅။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ်နှင့် (၂)လဖြစ်ပြီး၊ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၈.၇၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(က) ဝင်ငွေခွန် — ကျပ် ၀.၀၁ သန်း

အမေရိကန်ဒေါ်လာ ၀.၀၇ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၁.၅၆ သန်း

၇။ လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၄၉၈)ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၅)ဦးကို ခန့်ထားဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်လျှပ်စစ်စွမ်းအားဝန်ကြီးဌာနသို့သဘောထားမှတ်ချက်တောင်းခံခဲ့ရာ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ အဆိုပြုလုပ်ငန်းမှာ လုပ်ငန်းသစ်မဟုတ်ဘဲ တည်ဆောက်ပြီး လည်ပတ်နေသော စက်ရုံဖြစ်၍ လျှပ်စစ်ဓါတ်အား ရရှိသုံးစွဲလျက်ရှိပါကြောင်းနှင့် ဆက်လက် ဓါတ်အားပေးနိုင်ပါကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှု၊ CMP ချုပ်ခရငွေများနှင့် ပတ်သက်၍ လမ်းညွှန်ချက်နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိများပြုထားပါသည်။

၁၀။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက်မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားဖြစ်လုပ်ငန်း စတင်သော နှစ်အပါအဝင် ဆက်စပ်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရာတွင် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေး ကော်မတီမှ ထောက်ခံတင်ပြသည့် အလားတူ လုပ်ငန်းများ နည်းတူ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တရားဝင် ခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့ ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# "တော်ဝင်မြန်မာကုမ္ပဏီလီမိတက်"

(လုပ်ငန်းအပေါင်း)

**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

## Taw Win Myanmar co., Ltd.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၀၂ ပြည့်နှစ်၊ နိုဝင်ဘာလ (၇ ) ရက်။

အကြောင်းအရာ။ ။**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပါတ်သတ်၍ ကျွန်တော်တို့၏ တော်ဝင်မြန်မာကုမ္ပဏီလီမိတက်အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည်အမျိုးမျိုးချုပ်လုပ်သည့် အလုပ်ရုံတည်ဆောက်ပြီး အခစားချုပ်လုပ်မှုစနစ် ( **Cutting , Making and Packing ) C.M.P** စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ပါရန်အတွက် အဆိုပြုလွှာ (၆)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးဖေဝင်း
(အုပ်ချုပ်မှုဒါရိုက်တာ)
တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

၂၇/၂၈၀၂

၃-၁၈-၂၀၀၂ လျှို့ဝှက်

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/CMP/၂၀၀၂ (၂၅၆၀)။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်။

## ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ လက်ခစား (CMP) စနစ်ဖြင့်ဆောင်ရွက်လျှက်ရှိသော လုပ်ငန်းများအား ကော်မရှင်၏ ခွင့်ပြုမိန့်ရရှိရေးအတွက် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှ တစ်ဆင့် တင်ပြလာခြင်းကိစ္စ။

၁။ အထက် အဖွဲ့အစည်း၏ လမ်းညွှန်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ ဆောင်ရွက်လျှက်ရှိသော CMP လုပ်ငန်းများအား ကော်မရှင် ခွင့်ပြုမိန့် ရရှိရေးနှင့် စပ်လျဉ်း၍ အမှတ်(၁) စက်မှု ဝန်ကြီးဌာန၊ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေး ကော်မတီမှ ဤကော်မရှင်သို့ စိစစ် တောက်ခံ တင်ပြလျှက်ရှိပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကော်မရှင် ခွင့်ပြုမိန့်ရရှိရန် အောက်ပါမူ/ အောင် များနှင့် ညီညွတ်ရန် လိုအပ်ပါသည်။

(က) လုပ်ငန်း ဆောင်ရွက်မည့် မြေနေရာသည် စက်မှုဇုန် (သို့မဟုတ်) စက်မှုလုပ်ငန်းဆောင်ရွက် နိုင်သော ဇရိယာတွင်ရှိရန်၊
(ခ) ရင်းနှီးမြှုပ်နှံမှု ပမာဏသည် နိုင်ငံခြားငွေ အပါအဝင် ကျပ် (၁၀) သန်းနှင့် အထက်ရှိရန်၊
(ဂ) စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို ကော်မရှင် ခွင့်ပြုမိန့်ရရှိပြီးက FCEC ၏ စိစစ်ထောက်ခံ ချက်ရယူပြီးမှ တင်သွင်းရန်၊
(ဃ) ဝင်ငွေခွန် ကင်းလွတ်ခွင့်ပေးရန်ကိစ္စမှာ စီးပွားဖြစ် လုပ်ငန်း စတင်သောနေ့မှ စတင်၍ (၃)နှစ် ခွင့်ပြုရန်၊

၃။ CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ ထောက်ခံ တင်ပြလာသည့် အောက်ဖော်ပြပါ အထည်ချုပ်လုပ်ငန်း (၅)ခု သည် စက်မှုဇုန်တွင် လုပ်ငန်း ဆောင်ရွက်လျှက်ရှိပါသည်။ (နောက်ဆက်တွဲ-၁)

| ကုမ္ပဏီ အမည် | | တည်နေရာ |
|---|---|---|
| (က) အဲ့လီသီတာ ကုမ္ပဏီ လီမိတက် | – | ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း။ |

လျှို့ဝှက်

(ခ) အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဂ) နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(ဃ) ထူးထက်မန်နျူဖက်ချာ ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၅)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

(င) တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် - စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။

၄။ အထက်ပါ စက်မှုဇုန်တွင် လုပ်ငန်းဆောင်ရွက်လျက်ရှိသည့် ကုမ္ပဏီ (၅)ခုသည် ကော်မရှင်မှ ချမှတ်ထားသော မူ/ဘောင်နှင့် ကိုက်ညီကြောင်း တွေ့ရှိရပါသည်။ ယင်းလုပ်ငန်း(၅)ခုအပေါ် ကော်မရှင်မှ ချမှတ်ထားသော မူ/ဘောင်နှင့် CMP လက်ခစားလုပ်ငန်းများ စိစစ်ရေးကော်မတီမှ တင်ပြချက်များ နှိုင်းယှဉ်၍ ပူးတွဲဇယားဖြင့် တင်ပြအပ်ပါသည်။

၅။ အထက်အပိုဒ် (၃)ပါ ကုမ္ပဏီ (၅)ခုနှင့် စပ်လျဉ်းသည့် တင်ပြချက်များကို (၁၃-၉-၂၀၀၂)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၁/၂၀၀၂) အစည်းအဝေးမှ မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှု ခံယူရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။

၆။ ဆုံးဖြတ်ရန်အချက်

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် မဟုတ်ဘဲ စက်မှုဇုန်တွင် လုပ်ငန်းဆောင်ရွက်လျက်ရှိသော အပိုဒ်(၃)ပါ CMP အထည်ချုပ်လုပ်ငန်း(၅)ခုအား ခွင့်ပြုမိန့် ထုတ်ပေးရန် ကိစ္စကို သဘောတူ-မတူ။

(ခ) အဆိုပါ ကိစ္စကို သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

ကုန်သွယ်မှု မူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒကောင်စီ။

ပူးတွဲ

CMP လုပ်ငန်းများအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ချမှတ်ထားသော မူ/ဘောင်နှင့် CMP လက်ခစား လုပ်ငန်းများ စိစစ်ရေးကော်မတီမှ တင်ပြချက်များနှိုင်းယှဉ်ဇယား

| စဉ် | အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဠလိသီတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်နျူဖက်ချား ကုမ္ပဏီ လီမိတက် | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁။ | တည်နေရာ | စက်မှုဇုန်(သို့) စက်မှု လုပ်ငန်း ဆောင်ရွက်နိုင်သော ဧရိယာ | အမှတ်(၃၁၄/၃၁၅)၊ မဂ္ဂရာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၁၁၁)၊ မင်းကြီးမဟာမင်းခေါင်လမ်း၊ စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၃၂)၊ ဗန်းမော်အတွင်းဝန်လမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၄၁)၊ ရွှေရင်အေးဘုရားလမ်း၊ စက်မှုဇုန်(၅)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ | အမှတ်(၄၁/က)၊ ကနောင်မင်းသားကြီးလမ်း၊ လှိုင်သာယာစက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၂။ | ရင်းနှီးမြှုပ်နှံမှု ပမာဏ | ကျပ်(၁၀)သန်း အနည်းဆုံးရှိရမည်။ | ကျပ် (၈၀) သန်း | ကျပ် (၃၀)သန်း | ကျပ် (၂၃.၄၅)သန်း | ကျပ် (၄၁) သန်း | ကျပ် (၁၀.၅) သန်း |
| ၃။ | စက်ပစ္စည်း | နိုင်ငံခြားမှ တင်သွင်းခြင်း၊ ပြည်တွင်းမှ ဝယ်ယူခြင်း | ပြည်တွင်းဝယ် | ပြည်တွင်းဝယ် | ပြည်တွင်းနှင့် ပြည်ပမှ ဝယ်ယူခြင်း | ပြည်တွင်းဝယ် | ပြည်ပမှ တင်သွင်းခြင်း |

| စဉ် | အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဥ္စလိသိတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်နျူဖက်ချား ကုမ္ပဏီ လီမိတက် | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၄။ | စီးပွားဖြစ်လုပ်ငန်း စတင်သည့် နေ့ | ဝင်ငွေခွန်ကင်းလွတ်ခွင့်ကိုခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှ(၃)နှစ် ခွင့်ပြုရန် | ၁၂-၇-၉၆ | ၂၄-၈-၂၀၀၀ | ၁၅-၅-၉၈ | ၁၁-၉-၉၈ | ၁-၁-၉၇ |
| [illegible] | ကုမ္ပဏီမှတ်ပုံတင်မှု အခြေအနေ | ကုမ္ပဏီ မှတ်ပုံတင် ဆောင်ရွက်ရမည်။ | ၆၉၀/၁၉၉၈-၉၉ (၂၄-၉-၉၈) | ၂၉၀/၂၀၀၀-၂၀၀၁ (၂၉-၅-၂၀၀၀) | ၁၂၄၉/၁၉၉၇-၉၈ (၆-၁၁-၉၇) | ၆၅၆/၁၉၉၈-၉၉ (၁၁-၉-၉၈) | ၁၇၂/၁၉၉၃-၉၄ (၁-၆-၉၃) |
| ၆။ | စက်မှုလုပ်ငန်း အဖြစ်မှတ်ပုံတင်မှု အခြေအနေ | စက်မှု မှတ်ပုံတင် ရယူ၍ ဆောင်ရွက်ရမည်။ | ၇က/ကြီး/၁၀၈၈ (၉-၅-၂၀၀၁) | ၇က/ကြီး/၉၃၁ (၁၄-၈-၂၀၀၀) | ၇က/ကြီး/၆၆၃ (၁၅-၅-၉၈) | ၇က/ကြီး/၉၂၃ (၃-၈-၂၀၀၀) | ၇က/ကြီး/၅၇၄ (၂-၆-၉၇) |
| ၇။ | လုပ်သားအင်အား | - စက်ရုံအရွယ်အစား နှင့် စက်အရေအတွက် လုပ်သား အင်အား အချိုးညီ ရမည်။<br>- Labour Intensive လုပ်ငန်းများ ဦးစား ပေးပါသည်။ | ၄၀၀ | ၃၄၃ | ၅၀၉ | ၅၀၀ | ၅၀၀ |

| အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်ချူဖက်ချား ကုမ္ပဏီ လီမိတက် | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|
| ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ကုန်ကြမ်းပေးပို့မည့် ကုမ္ပဏီ အမည် | ကုန်ကြမ်းပေးပို့မည့် ကုမ္ပဏီသည်နိုင်ငံရပ်ခြားတွင်အမှန်တကယ် တည်ရှိ မှတ်ပုံတင်ထားကာ လုပ်ငန်းကို ဆောင်ရွက် နေရပါမည်။ | စင်ကာပူနိုင်ငံမှ ACTION WEAR MANUFACTURING CO., LTD. | ဟောင်ကောင်မှ GARTEX KNITTING FACTORY CO., LTD. | စင်ကာပူနိုင်ငံ TY FASHION INT'L CO., LTD. | MACAU နိုင်ငံ CHIAO KUANG GROUP LTD. | ထိုင်းနိုင်ငံ TRANS THONG ENGINEERING CO., LTD. |
| စာချုပ်ချုပ်ဆိုသည့် ထုတ်ကုန် ပစ္စည်း အမျိုးအစား/ အရေအတွက် | - Firm Contract ဖြစ်ရမည်။<br>- စက်အရေအတွက် ထုတ်လုပ်မှု၊ လုပ်သားအင်အား၊ စက်ရုံ အရွယ်အစား ဆီလျော်၍ အချိုးညီရမည်။ | - Men's Jacket (2500)Doz | - T-Shirt (3250)Doz<br>- Polo Shirt (3700)Doz | - Men's 100 % Cotton Pique Golf Shirt (1700)Doz | - Men's Slack (15000) Pcs<br>- Tee Shirt (2500) Doz<br>- Polo Shirt (2000) Doz | - Men's Knitted Vest (1084)Doz<br>- Men's Knitted Polo Shirt (1136) Doz |

| စဉ် | အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်နျူဖက်ချား ကုမ္ပဏီ လီမိတက် | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁၀။ | ထုတ်လုပ်မှု အမျိုးအစား/ အရေအတွက် (တစ်လနှုန်း) | - ကော်မရှင်မှ စံနှုန်းပြုထားသော ကုန်ကြမ်းအရေအတွက်နှုန်းထား၊ ကုန်ချောပြန်ပို့မှု အမျိုးအစား ကိုက်ညီရမည်။ | - T-Shirt, Polo Shirt (1250) Doz<br>- Jacket (833) Doz<br>- Pants (417) Doz<br>- Other (1667) Doz | - T-Shirt (2500) Doz<br>- Polo Shirt (2500) Doz | - Polo Shirt (18200) Doz<br>- T- Shirt (20800) Doz<br>- Pants (18200) Doz<br>- Jacket (15600) Doz<br>- Coat (1820) Doz<br>- Track Suit (187200) Set | - Men's Slack (15000) Pcs<br>- Tee Shirt (2500) Doz<br>- Polo Shirt (2000) Doz<br>- Tank Top (4000) Doz<br>- Jacket (1500) Doz | - T-Shirt (22500) Doz<br>- Polo Shirt (15000) Doz<br>- Coat (3750) Doz<br>- Jacket (9000) Doz<br>- Sport Wear (15000) Doz<br>- Ladies Shirt (13500 )Doz<br>- Boy Shirt (135000) Doz |

| စဉ် | အကြောင်းအရာ | ကော်မရှင်မှ ချမှတ်ထားသော မူဝါဒ | အဥ္စလီသီတာ ကုမ္ပဏီ လီမိတက် | အကောင်းဆုံးအောင်နိုင်သူ အထည်ချုပ် ကုမ္ပဏီ လီမိတက် | နန်းယာ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက် | ထူးထက်မန်းချူဖက်ချား ကုမ္ပဏီ လီမိတက် | တော်ဝင်မြန်မာ ကုမ္ပဏီ လီမိတက် |
|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ |
| ၁၁။ | အလုပ်သမား တစ်ယောက် တစ်လ ထုတ်လုပ်မှု နှုန်း | | - T-Shirt, Polo Shirt (3) Doz<br>- Jacket (2) Doz<br>- Pants (1) Doz<br>- Other (4) Doz | - T-Shirt (7) Doz<br>- Polo Shirt (7) Doz | - Polo Shirt (36) Doz<br>- T- Shirt (41) Doz<br>- Pants (36) Doz<br>- Jacket (31) Doz<br>- Coat (4) Doz<br>- Track Suit (374) Set | Men's Slack (30) Doz<br>- Tee Shirt (5) Doz<br>- Polo Shirt (4) Doz<br>- Tank Top (8) Doz<br>- Jacket (3) Doz | - T-Shirt (45) Doz<br>- Polo Shirt (30) Doz<br>- Coat (7.5) Doz<br>- Jacket (18) Doz<br>- Sport Wear (30) Doz<br>- Ladies Shirt (27 )Doz<br>- Boy Shirt ........... (270) Doz |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# "တော်ဝင်မြန်မာကုမ္ပဏီလီမိတက်"

(လုပ်ငန်းအဟောင်း)

**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

## Taw Win Myanmar co., Ltd.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုမြန်မာနိုင်ငံတော်

နေ့စွဲ။ ။ ၂၀၀၂ခုနှစ်၊ ဒီဇင်ဘာလ ၊ ( ၅ ) ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်တို့၏ **TAW WIN MYANMAR CO.,LTD** သည် ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုံ (၁)၊ ကနောင်မင်းသားကြီးလမ်း၊ အမှတ် ၄၁(က)၊ မြေအကျယ်အဝန်း (၁.၅၃)ဧက အနက်မှ (၀.၅၅)ဧက အကျယ်အဝန်းရှိသော နေရာတွင် **C.M.P** စနစ်ဖြင့် အထည်ချုပ်စက်ရုံငှားရမ်းပြီး အရည်အသွေးကောင်းမွန်သည့် ချုပ်ပြီး အထည်များ ထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီလီမိတက်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာများပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးဖေဝင်း
(မန်နေဂျင်းဒါရိုက်တာ)
တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ (၇) ရက်။

အကြောင်းအရာ။ ။**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပါတ်သတ်၍ ကျွန်တော်တို့၏ တော်ဝင်မြန်မာကုမ္ပဏီလီမိတက်အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည်အမျိုးမျိုးချုပ်လုပ်သည့် အလုပ်ရုံတည်ဆောက်ပြီး အခစားချုပ်လုပ်မှုစနစ် **( Cutting , Making and Packing ) C.M.P** စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ပါရန် အတွက် အဆိုပြုလွှာ (၆)စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးဖေဝင်း
(မန်နေဂျင်းဒါရိုက်တာ)
တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ (၇ ) ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ၊ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များလျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သတ်၍ ကျွန်တော်တို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ **"တော်ဝင်မြန်မာကုမ္ပဏီ လီမိတက်" (Taw Win Myanmar Co., Ltd.)** သည် ရန်ကုန်တိုင်း၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ (၁)၊ မြေကွက်အမှတ် (၄၁)၊ မြေဧရိယာ (0.75) ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီ အဝတ်အထည်အမျိုးမျိုးချုပ်လုပ်သည့် အလုပ်ရုံတည်ဆောက်ပြီး အခစားချုပ်လုပ်မှုစနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်၍ နိုင်ငံခြားသို့ပြန်လည် တင်ပို့ပြီး နိုင်ငံခြားငွေရရှိရန် ခေတ်မီနည်းပညာစက်ကရိယာများဖြင့် ပြုလုပ်ခွင့်ရရှိရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်သည် နိုင်ငံတကာအဆင့်မီ အဝတ်အထည်အမျိုးမျိုးချုပ်လုပ်ခြင်း တွက် လိုအပ်သည့်စက်ကရိယာများကို ပြည်ပမှဝယ်ယူပြီး အရင်းအနှီးအဖြစ် ထည့်ဝင်ထား ပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် မတည်ရင်းနှီးငွေ စုစုပေါင်း ကျပ်သန်းပေါင်း (၁၀ .၅)သန်း ကို စက်ပစ္စည်းများဖြင့် ထည့်ဝင်းပြီး ရင်းနှီးမြှုပ်နှံ ကြမည်ဖြစ်ပါသည်။ ချုပ်လုပ်ဖြန့်ဖြူးရောင်းချ၍ရရှိလာသော အမြတ်ငွေများကိုလည်း ပြည် ထောင်စုမြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည် ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။ ချုပ်လုပ်ရရှိလာသော ကမ္ဘာ့အဆင့်အတန်းမီ အဝတ် အထည်အမျိုးမျိုးကို နိုင်ငံခြားသို့ တင်ပို့မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်

လည်းကောင်း၊ စက်မှုနည်းပညာရပ်များ တိုးတက်လာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်ရန် အထောက်အကူဖြစ်စေခြင်းအလို့ငှာလည်းကောင်း၊ ဤလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိရန် လျှောက်ထားအပ်ပါသည်။ ထို့အပြင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လေးစားစွာ လျှောက်ထားအပ်ပါသည်။

၅။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊ (မနသ – ပုံစံ)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ (မူကြမ်း)

(ဃ) ဘဏ္ဍာရေးဆိုင်ရာ အချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ – စသည်တို့ ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးဖေဝင်း
မန်နေဂျင်းဒါရိုက်တာ
တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ( ၇ ) ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပါတ်သတ်၍ ကျွန်တော်တို့၏ တော်ဝင်မြန်မာ ကုမ္ပဏီလီမိတက်အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ အဝတ် အထည်အမျိုးမျိုးချုပ်လုပ်သည့် အလုပ်ရုံတည်ဆောက်ပြီး အခစားချုပ်လုပ်မှုစနစ် **( Cutting , Making and Packing ) C.M.P** စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း နှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(၁) ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်း ကျင်ညစ် ညမ်းမှု မဖြစ်ပွားစေရန်အတွက်၊ လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှု များပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ နည်း ဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိ စေရန် အကောင်အထည်ဖေါ် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(၂) ထို့အပြင်နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဟု ဝန်ခံကတိပြုပါသည်။

(၃) ဤအဆိုပြုလုပ်ငန်းဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိလာသော အခကြေးငွေများ ကို မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် / မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိ ကုမ္ပဏီ၏ငွေစာရင်းသို့မပျက်မကွက် ပေးသွင်းမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါ သည်။

(၄) ယင်းသို့ပေးသွင်းထားရှိသည့်နိုင်ငံခြားငွေများကို နိုင်ငံတော်မှ သတ်မှတ်ခွင့်ပြုထားသည့် ငွေလဲလှယ်ရေးဌာန (FOREIGN EXCHANGE COUNTER ) တွင်လဲလှယ်ပြီး မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏လုပ်ခများအား ပေးဆောင်ရမည်ကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးဖေဝင်း
မန်နေဂျင်းဒါရိုက်တာ
တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ–၁ )

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

## [ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ) နှင့် ပုဒ်မ ၈ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ။ ။၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ( ၅ ) ရက်။

ကျွန်တော်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

(က) အမည် – ဦးဖေဝင်း

(ခ) အဖအမည် – ဦးရှန်မုန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်– ၉/မနမ (နိုင်) ၀၈၂၄၄၁

(ဃ) နေရပ်လိပ်စာ – အကွက်အမှတ်(၁၂၂)၊ဖန်ချက်ဝန်ဦးမြူးလမ်း၊ လှိုင်သာယာမြို့နယ်၊စက်မှုဇုံ(၁)၊ရန်ကုန်မြို့။

(င) လူမျိုး၊ ဘာသာ – ရှမ်း/တရုတ်–ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်းအမည် – တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

(ဆ) လုပ်ငန်းအမျိုးအစား - C.M.P စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း

(င) အဖွဲ့အစည်းတည်နေရာအရပ် - ရန်ကုန်တိုင်း ၊လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ (၁) ၊ကနောင်မင်းသားကြီးလမ်း ၊ မြေကွက်အမှတ် (၄၁)။

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁)--------------- (၂)---------------

(ခ) အဖအမည် (၁)--------------- (၂)---------------

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် (၁)--------------- (၂)---------------

(ဃ) နေရပ်လိပ်စာ (၁)--------------- (၂)---------------

(င) လူမျိုးဘာသာ (၁)--------------- (၂)---------------

(စ) အဖွဲ့အစည်းအမည် ---------------------------------
(ဆ) လုပ်ငန်းအမျိုးအစား ---------------------------------
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ---------------------------------

၃။ ရင်းနှီးမြုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း- **CMP** စနစ်ဖြင့် အသင့်ချုပ်ပြီးအထည်များထုတ်လုပ်သည့်လုပ်ငန်း၊

(ခ) ဝန်ဆောင်မှုလုပ်ငန်း - ------------------------------------

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------- **လီမိတက်ကုမ္ပဏီ** ---------------

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

---------------------------------------------

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

---------------------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် – ------------------------------

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း – ------------------------------

(ဂ) လီမိတက်ကုမ္ပဏီ – **" တော်ဝင်မြန်မာကုမ္ပဏီလီမိတက် "**

**( Taw Win Myanmar Co., Ltd. )**

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ

-----------------------------------------------------------

(ခ) အကျိုးအမြတ်ခွဲဝေမည့်အမျိုးအစား ----------------------------------

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ------------------------------

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီအသင်းဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း – **ကျပ်သန်း၁၀၀,၀၀၀,၀၀၀/–(ကျပ်သန်းတစ်ရာတိတိ)**

(ခ) အစုရှယ်ယာအမျိုးအစား **–တစ်စုလျှင်ကျပ်တစ်ထောင်တန်အစုရှယ်ယာ (၁,၀၀၀)တန်သာမန်အစုရှယ်ယာ**

**(၁၀၀၀၀၀)(ကျပ်တစ်သိန်း)**

(ဂ) အစုရှယ်ယာများကထည့်ဝင်မည့် အစုရှယ်ယာ – (၁၀,၅၀၀,၀၀၀) (ကျပ်တစ်ဆယ်သန်းငါးသိန်း)

တိတိ) တစ်စုလျှင် (၁၀၀၀) ကျပ်တစ်ထောင်တန်အစုရှယ်ယာ

၁၀,၅၀၀ (ကျပ်တစ်သောင်းငါးရာ) သာမန်အစုရှယ်ယာ

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ–

| | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (US $) | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (က) မတည်ငွေရင်းပမာဏ (ယခုအဆိုပြုလုပ်ငန်းအတွက်) | | | |
| (၁) ငွေပမာဏ– | 4,495,000 | | 4,495,000 |
| (၂) စက်ပစ္စည်းကိရိယာများ **နောက်ဆက်တွဲဇယား–(၂)** | | 100,800 | 604,800 |
| (၃) မြေ | – | | – |
| (၄) အဆောက်အအုံများ | – | | – |
| (၅) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ **နောက်ဆက်တွဲဇယား–(၃)** | 5,400,200 | | 5,400,200 |
| (၆) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ | – | | – |
| **စုစုပေါင်း** | 9,895,200 | 100,800 | 10,500,000 |

| (ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊စက်ကိရိယာများ စသည့်ပစ္စည်းတို့၏တန်ဖိုး **နောက်ဆက်တွဲဇယား(၃)** | – | – |
| (၂) ဆောက်လုပ်ရေးပစ္စည်းများ | – | – |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | – | – |
| **စုစုပေါင်း** | | |

(ဂ) တည်ဆောက်မှုကာလ -

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ -

(င) တည်ဆောက်မှုစတင်မည့်အချိန် -

၉။ ဆောင်ရွက်မည့်လုပ်ငန်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား - C.M.P စနစ်ဖြင့်အထည်ချုပ်လုပ်ငန်းဆောင်ရွက်ခြင်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရန်ကုန်တိုင်း၊လှိုင်သာယာမြို့နယ်၊စက်မှုဇုံ(၁)၊ မြေကွက်အမှတ်(၄၁)၊ကနောင်မင်းသားကြီးလမ်း။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - အခစားချုပ်လုပ်မှုစနစ် (Cutting , Making and Packing System )C.M.P

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ဒီဇယ်ဆီ | ၅၅၀၀၀ ဂါလံ |
| ၂။ ဓါတ်ဆီ | ၄၀၀၀ ဂါလံ |
| ၃။ စက်ဆီ၊ချောဆီ | ---------- |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ၅၀၀ ကီလိုဝပ် |
| ၂။ ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ၅၀၀ ကီလိုဝပ် |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ----------- |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | ----------- |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ----------- |

(စ) နှစ်စဉ်ရေလိုအပ်ချက်

(၁) တစ်နေ့ရေလိုအပ်ချက်ဂါလံ - ၃၅၀၀ ဂါလံ

(၁) တစ်နှစ်ရေလိုအပ်ချက်ဂါလံ - ၁၀၉၂၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်(တစ်နှစ်ပျှမ်းမျှ)

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁) ---------- | ---------- | ---------- | ---------- |
| (၂) ---------- | ---------- | ---------- | ---------- |
| | | | နောက်ဆက်တွဲ(၄) |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) ---------- | ---------- | ---------- | ---------- |
| (၂) ---------- | ---------- | ---------- | ---------- |
| ၃။ စက်သုံးဆီ/ဓါတ်ငွေ့များ | | | |
| (၁) ---------- | ---------- | ---------- | ---------- |
| (၂) ---------- | ---------- | ---------- | ---------- |

(ဇ) အဆောက်အအုံလိုအပ်ချက် –၂၄၀ပေ X ၅၀ပေ(သုံးထပ်အဆောက်အအုံ)

(ဈ) မြေနေရာ အမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် –၁. ၅၃ ဧက /စက်မှုမြေ
၁. ၅၃ ဧက မှ ၀. ရ၅ ဧကကိုသာ
တော်ဝင်မြန်မာကုမ္ပဏီအထည်ချုပ်လုပ်ငန်းကို လုပ်ကိုင်ပါမည်။

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု – နောက်ဆက်တွဲဇယား(၅)

(ဋ) ရောင်းချမည့်နည်းစနစ် – ပြည်ပတင်ပို့မှု ၉၉%
ပြည်တွင်းရောင်းချမှု ၁%

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ–

| | ခန့်မှန်းခြေ | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ (US$) |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား(၆) | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား(၈) | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား(၅) | |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား(၅) | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | နောက်ဆက်တွဲဇယား(၅) | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း–

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ – **နောက်ဆက်တွဲဇယား(၇)**

(ခ) နိုင်ငံခြားမှလိုအပ်မည့် ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ– **နောက်ဆက်တွဲဇယား(၇)**

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့်စပ်လျဉ်းသော အချက်အလက်များ–

| | | ခန့်မှန်းခြေ<br>ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | – | **နောက်ဆက်တွဲဇယား(၈)** | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ်တွဲ | – | **နောက်ဆက်တွဲဇယား(၈)** | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | – | **နောက်ဆက်တွဲဇယား(၈)** | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | – | **နောက်ဆက်တွဲဇယား(၉)** | |
| (င) အရင်းကျေကာလ | – | **နောက်ဆက်တွဲဇယား(၁၀)** | |
| (စ) အခြားအကျိုးအမြတ်များ | – | **နောက်ဆက်တွဲဇယား(၁၁)** | |
| (ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့် | – | **နောက်ဆက်တွဲဇယား(၇)** | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ၊အဆိုပြုတင်ပြသည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့်သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လျှောက်ထားသူ

လက်မှတ် ------------------

အမည် ဦးဖေဝင်း

ရာထူး မန်နေဂျင်းဒါရိုက်တာ

တော်ဝင်မြန်မာကုမ္ပဏီလီမိတက်

**TAW WIN MYANMAR CO.,LTD**

**INTERNAL RATE OF RETURN**

Exhibit No . I

| Sr No. | Name | Citizenship N.R.C No. Passport No. | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | တော်ဝင်မြန်မာကုမ္ပဏီလီမိတက်ကိုကိုယ်စားပြုသူများ | | | | ကျပ်(၁၀.၅) သန်း | 100 |
| ၁ | ဦးဖေဝင်း | ၉/မနမ(နိုင်) ၀၈၂၄၄၁ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၄)၊ အကွက် (၅၃)၊ ပြည်လုံးချမ်းသာရပ်၊ အောင်မြေသာဇံမြို့နယ်၊ မန္တလေး။ | | |
| ၂ | ဒေါ်လင်းလင်းမြင့် | ၁၂/မရမ(နိုင်) ၀၄၅၉၈ရ | ဒါရိုက်တာ | အမှတ်(၄)၊ အကွက် (၅၃)၊ ပြည်လုံးချမ်းသာရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေး။ | | |
| ၃ | ဦးမြင့်နိုင် | ၁၃/သပန(နိုင်) ၀၄၁၆၂၂ | ဒါရိုက်တာ | (၁၂၂) ဖန်ချက်ဝန်ဦးမြူးလမ်း၊လှိုင်သာယာစက်မှုဇုံ (၁) ၊လှိုင်သာယာမြို့နယ်၊ရန်ကုန်။ | | |
| ၄ | ဒေါ်အေးနန်း | ၉/မနမ(နိုင်) ၀၀၀၂၄၈ | ဒါရိုက်တာ | (၁၄၄) ၊ဦးတရုတ်ကြီးလမ်း၊ စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ရန်ကုန်။ | | |
| | | | | စုစုပေါင်းရင်းနှီးငွေ | ကျပ်(၁၀.၅) သန်း | 100 |

